# ပတ္တမြားရွှေဥမင်ရိပ်သာ

ရွှေဥမင်ရိပ်သာကြီးဟာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ကုန်းတလပေါင်းကျေးရွာ၊ အောင်မြေသာယာလမ်းမှာ တည်ရှိပါသည်၊ စာရေးသူမှာ ရွှေဥမင်ရိပ်သာတွင်တရားအားထုတ်ရန်အတွက်နယ်မှရောက်ရှိခဲ့ပါသည်၊ ရွှေဥမင်ရိပ်သာကြီးဟာကျယ်ဝန်းပြီးကျောင်းတိုက်များလဲများပြားစွာရှိပါသည်၊ အထူးသဖြင့် တိပိဋက တိုက်ကျောင်းဆောင်ကြီးမှာ အလွန်ခေတ်မှီထယ်ဝါလှပပြီး ဒကာ၊ ဒကာမများ၏ သဒ္ဓါတရားကို ပီတိဖြစ်မိပါသည်။

စာရေးသူမှာနည်းမျိုးစုံဖြင့်တရားအားထုတ်ခဲ့သည်မှာ(၈)နှစ်ခန့်ရှိပါသည်၊ရွှေဥမင်ရိပ်သာကြီးကိုခုမှပင်ရောက်ဖူးခဲ့ပါသည်၊ ကျောင်းတိုက်အတွင်းမှာများပြားလှသောနိုင်ငံပေါင်းစုံမှသံဃာများ၊ သီလရှင်များ၊ ယောဂီများ၊ ပြည်တွင်းမှသံဃာများ၊ သီလရှင်များ၊ ယောဂီများကိုတွေ့ရပါသည်၊ အိပ်ယာနေရာများ၊ အခန်းများ၊ အဆောင်များမှာ နေချင်စဖွယ်သပ်ရပ်လှပသန့်ရှင်းလှပါသည်။ အမျိုးသမီးဆောင်များလည်းအများ အပြားရှိသည်။

အစားအသောက်များမှာလည်းကြိုက်ရာစားစနစ်ဖြင့်စီစဉ်ထားပုံမှာ တခြားရိပ်သာများနှင့်မတူသည့်မြင်ကွင်းများဖြစ်ပါသည်၊အလှူရှင်များမှာလည်း ဆွမ်းများ၊ ဆွမ်းဟင်းများပြည့်စုံစွာတန်းစီချထားပါသည်၊ အလှူရှင်အများစုမှာ နိုင်ငံခြားသားများဖြစ်ပါသည်၊ စင်္ကြန်လမ်းများရိပ်သာအနှံ့ရှိသည်မို့သွားရင်လာရင်း စင်္ကြန်အမှတ် အသိနှင့်လျှောက်ပြီးဖြစ်ပါသည်။

ရွှေဥမင်ရိပ်သာ၏တရားအားထုတ်ပုံနည်းစနစ်မှာ လည်းအလွန်စိတ်ဝင်စားစရာကောင်းလှပါသည်၊အာရုံကိုအကြောင်းပြုပြီး၊ စိတ်မှာ လောဘ၊ ဒေါသ၊မောဟနည်းပါးအောင်ပြုလုပ်ရခြင်းဖြစ်သည်၊ စိတ်ရှုနည်းဖြစ်သည်၊ ကိုယ့်ဒွါရ (၆) ပါးကိုကိုယ့်အသိဖြင့် ပြန်ရှုရခြင်းဖြစ်သည်၊ အဓိကအချက်မှာ ရပ်၊ထိုင်၊လျောင်း၊သွား (၄) ပါးစလုံးမှာ သတိခြင်းထပ်၊ သတိခြင်းကပ်နေရခြင်းဖြစ်သည်၊ အခြားစကားပြောခြင်း၊ အထွေထွေကိစ္စများ လုပ်ရာတွင်သတိခြင်းကပ်နေအောင်လုပ်ရပါသည်။

စာရေးသူမှာအလွန်စိတ်ဝင်စားစရာ ကောင်းသောတရားနည်းကိုအလွန်နှစ်သက်မိပါသည်၊ ရွှေဥမင်ရိပ်သာနည်းနှင့်ကျင့်လျှင် မည်သို့ထူးခြားမှုများရှိလာမည်ကိုအလွန်စိတ်ဝင်စားပါသည်၊ တရားစစ်ရာတွင်ယောဂီများ၏ တရားလျှောက်ထားချက်များမှာ အလွန်မှတ်သားစရာများဖြစ်ပါသည် အစတွင်နည်းနာနိသသယမသိသော်လည်း ဆရာတော်၏တရားတိတ်ခွေများ ဆရာတော်၏ဩဝါဒများ အလေ့အကျင့်များကြောင့် တရားတော်၏အနှစ်သာရ၊ တရားတော်၏အေးချမ်းမှုများရရှိပါသည်၊ လောဘတရား၊ မောဟတရား၊ ဒေါသတရား၊ ဣဿာ မစ္ဆရိယ ဖြစ်သွားသလား၊ မာနဖြစ်သွားသလား စုံစမ်းစစ်ဆေးသိ သိပေးနေရပါသည်၊ တစိတ်ပြီးတစိတ်ပြောင်းလဲသွားခြင်းများကိုလည်းစာ

ရေးသူမှ "ဘာမှလည်းမရှိပါလား၊ ဘာမှလဲမဟုတ်ပါလားလို့" ဆင်ခြင်ပေးပါသည်။

တရားထိုင်ရှုမှတ်ရာတွင် တင်းကြပ်သောစိတ်များ၊ ခန္ဓာကိုယ်၏ တင်းကြပ်မှုများကိုအရင်ဖြေလျှော့ထားရပါသည်၊ ထိုင်တာကိုလဲသိသည်၊ ထိတာကိုလည်းသိသည်၊ မြင်တာကိုလည်းသိနေသည်၊ ကြားတာကိုလည်းသိသည်၊ ခန္ဓာတွင်းမှာလှုပ်နေတာကိုလည်းသိသည်၊ ရာသီဥတုအေးတာကိုလည်းသိသည်၊ စိတ်အားလုံးကိုသိပေးနေပါသည်၊ အစတွင်နာမည်တပ်ကာ သိနေရသော်လည်း ကျွမ်းကျင်လာသောအခါ၊ သမာဓိအားကောင်းလျှင် အားကောင်းသလောက်ထိုင်ရှုနေရသည်မှာ စိတ်ထဲတွင်လန်းဆန်း၍ ဝန်ပေါ့သောအဖြစ်ကိုသိနေသည်၊ သမာဓိအားလျော့ကျလျှင်လည်း လျော့ကျသလောက်ထိမိမှုမရှိပါ၊ ဒါ့ကြောင့်သမာဓိအားကိုလည်း၊ အမြဲတမ်းဖြည့်တင်းပေးနေရပါတယ်၊ [redacted]မျက်လုံးကိုဖွင့်၍ အားမထုတ်တတ်သော်လဲ နောက်တွင်မျက်လုံးဖွင့်၍ အားထုတ်မှုကျေနပ်လာပါသည်။

စင်္ကြံလျှောက်ရင်းအားထုတ်ရာတွင်မြင်တာကိုလည်းသိနေပါသည်၊ ကြားတာကိုလည်းသိနေပါသည်၊ လမ်းလျှောက်တာကိုလည်းသိနေသည်၊ တွေးတာကိုလည်း သိနေသည်၊ ခန္ဓာလှုပ်နေတာကိုလည်း သိနေသည်၊ ပူတာအေးတာ ကိုလည်းသိနေသည်၊ ရပ်ထာကိုလည်းသိပါသည်၊ လှည့်တာကိုလည်းသိပါသည်၊ အသိကပ်၍သိ ၊ သိနေရပါသည်၊ မြန်ရင်လဲမြန်တာသိ၊ နှေးရင်လည်းနှေးတာသိနေပါသည်၊ သမာဓိအားကောင်းလျှင် အားကောင်းသလောက်၊ အသိကပ်ပြီးလျှောက်နေရသည်မှာ ပျင်းသည်ဟူ၍ မရှိပါ။

အစားအသောက်များမြင်ရာတွင်၊ မြင်သည်နှင့်အသိကပ်၍ ကြည့်ရှုရပါသည်၊ စာရေးသူမှာ ဆွမ်းမစားမီ -------

"ငါ၏သံသရာအဆက်ဆက်ကတော်ခဲ့ရာငါ၏ဆွေမျိုးများရဲ့အသားနဲ့စားသောက်ပြီးငါ၏အသက်နဲ့ခန္ဓာကိုမြဲအောင်စောင့်ရှောက်နေရပါတကား"ဟုဆင်ခြင်ပေးပါသည်၊ တစိတ်ပြီး တစိတ်အမြဲမပြတ်ပြောင်းလဲနေသည်ကိုလည်း "မမြဲပါလားဆင်းရဲပါလား၊ အစိုးမရပါလားမမြဲ၊ ဆင်းရဲ၊ အစိုးမရသောတရားသည် သင်္ခါရတရားမျှသာဖြစ်သည်၊ အနိစ္စလက္ခဏာသာဖြစ်သည်၊ ဒုက္ခသစ္စာသာဖြစ်သည်"ဟုဆင်ခြင်ပြီးမှ စားလေ့ရှိပါသည်။

ဆွမ်းစားရာတွင် မြင်တာကိုလည်းသိသည်၊ ကြားတာကိုလည်းသိသည်၊ ထိတာကိုလည်းသိသည် တွေးတာကိုလည်းသိသည်၊ ပန်ကာလေးအေးတာကိုလည်းသိသည် လှမ်းတာကိုလည်းသိသည် ယူတာကိုလည်းသိသည်၊ ဝါးတာကိုလည်းသိသည်၊ မြိုချတာကိုလည်းသိသည်၊ အမည်မတပ်သော်လဲ အားလုံးကိုဆက်ကာ၊ ဆက်ကာသိ ၊ သိပေးနေရပါသည်၊ ရပ်မှတ်လျှင်လည်း၊ ထိုနည်းအတိုင်းပင်ဖြစ်သည်။

ရွှေဥမင်ရိပ်သာတွင်တရားအားထုတ်ရသည်မှာ လောဘတရား၊ ဒေါသတရား၊ မောဟတရား

ဣန္ဒြိယသံဝရ တရားများလျှော့ပါးလာပါသည်၊ ဤစိတ်များဝင်လျှင်လဲ ဝင်ရင်ဝင်မှန်းသိ၊ သိပေးပါသည်၊ စိတ်၏ငြိမ်းအေးချမ်းသာမှုကိုရရှိပါသည်။ စာရေးသူမှာ မကြာခဏအားငယ်မှုများရှိသော်လည်း၊ ယခုအခါတွင်ကိုယ့်ကိုယ်ကို၊ ယုံကြည်မှု အပြည့်အဝရှိလာပါသည်၊ ဆုံးဖြတ်ချက်များလဲ မှန်ကန်လာပါသည်။

စာရေးသူမှာ-----

"ငါ၏အသက်သည်မမြဲ ၊ ငါ၏သေခြင်းသည်မြဲ၏၊ ငါ၏အသက်သည်သေခြင်းမှာသာအဆုံးရှိသည် ငါသည်မုချ သေရမည်ဟု"

မရဏာသတိ ကိုအမြဲမပြတ်ပွါးများသူဖြစ်ပါသည်၊ မသေခင်စပ်ကြားလေးမှာ နိဗ္ဗာန်ရောက်ကြောင်းနည်းလမ်းကောင်း တခုဖြစ်တဲ့ရွှေဥမင်ရိပ်သာနည်း ဖြင့်သတိတရားလက်ကိုင်ထားပြီး ကြိုးစားပွား များအားထုတ်သွားမှာ ဖြစ်ပါသည်။

ပြည်တွင်းပြည်ပယောဂီများ၊ အဆက်မပြတ်လာရောက်၍ တရားကိုကြိုးစားပွားများအားထုတ်သင့်သော ရိပ်သာကောင်းတခုဖြစ်ပါသည်၊ ဆရာတော်၏ပြည်တွင်းပြည်ပ သာသနာပြုလုပ်ငန်းများအောင်မြင်ပါစေကြောင်းဆုတောင်းမေတ္တာပတ္ထနာပြုအပ်ရင်း၊ ဤဆောင်းပါးဖြင့် ဆရာ့ဂုဏ်ကိုရေးသားပူဇော်အပ်ပါသည်။

စဝီရ (ခုံးဆယ်)